အကြောင်းအရာ။ FMIDecaux Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်မြို့တွင်းလမ်းသုံးပရိဘောဂ ဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်၊ လုပ်ငန်း လုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံးပရိဘောဂများပေါ်တွင် ကြော်ငြာခြင်း (Design, fabrication, installation, maintenance and operation of street furniture items and operation of advertisement on those items in the city of Yangon) လုပ်ငန်းနှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br><br><br>လုပ်ငန်းအမျိုးအစား | - FMIDecaux Company Limited<br>- ဒေါ်ဇာခြည်တင်<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>စင်ကာပူနိုင်ငံ JCDecaux Asia (S) Pte Ltd. မှ ၆၀ %<br>မြန်မာနိုင်ငံ First Myanmar Investment Company Limited မှ ၄၀ %<br>- ရန်ကုန်မြို့တွင်း လမ်းသုံးပရိဘောဂ ဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်၊ လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံးပရိဘောဂများပေါ်တွင် ကြော်ငြာခြင်း (Design, fabrication, installation, maintenance and operation of street furniture items and operation of advertisement on those items in the city of Yangon) |
| ၂။ | တည်နေရာ | - တင်ဒါတွင် သတ်မှတ်ထားသော ရန်ကုန်မြို့တွင်းရှိ ဘတ်စ်ကားမှတ်တိုင်ပေါင်း ၂၇၈ နေရာ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>မြေ/အဆောက်အအုံ ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း /အသုံးပြုခွင့်သက်တမ်း | - ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ<br>-<br>-<br>- |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၂၀ နှစ် |

| | | |
|---|---|---|
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၅ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းထည့်ဝင်သည့်အမျိုးအစား | **- အမေရိကန်ဒေါ်လာ ၁၃.၀၀ သန်း** |
| | | **မြန်မာ(US$)** / **နိုင်ငံခြား(US$)** / **စုစုပေါင်း (US$)** |
| | ငွေသား | ၅.၂၀ / ၇.၈၀ / **၁၃.၀၀** |
| | စုစုပေါင်း | **၅.၂၀** / **၇.၈၀** / **၁၃.၀၀** |
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | (see table below) |
| ၈။ | အခြားတင်ပြချက် | - ပြည်တွင်းဝန်ထမ်း ၁၇ ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၂,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ပြည်ပဝန်ထမ်း ၁ဦး ခန့်ထားမည်ဖြစ်ပြီး လစာမှာ အမေရိကန်ဒေါ်လာ ၂,၀၀၀ ဖြစ်ပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် The Bank of Tokyo-Mitsublish UFJ.Ltd. (Yangon Branch) တွင် FMIDecaux Company Limited အမည်ဖြင့် US$ ၇၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ တင်ဒါစိစစ်ရေးနှင့် ရွေးချယ်ရေးကော်မတီမှ တင်ဒါအောင်မြင်ကြောင်း ကုမ္ပဏီသို့ အကြောင်းကြားစာ၊ကုမ္ပဏီနှင့် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီတို့ချုပ်ဆိုမည့် လုပ်ငန်းသဘောတူစာချုပ်(မူကြမ်း)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ JV စာချုပ် (မူကြမ်း)၊ သင်းဖွဲ့မှတ်တမ်း၊သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ) တို့အား တင်ပြထားပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့တွင်ကျင်းပပြုလုပ်ခဲ့သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၈/၂၀၁၇) |

နှစ်စဉ်ဝန်ဆောင်မှု (၇။):

| **စဉ်** | **ဝန်ဆောင်မှုအမျိုးအစား** | **ယူနစ်** | **ဈေးနှုန်း (US$)** | **စုစုပေါင်းရရှိငွေ (US$)** |
|---|---|---|---|---|
| ၁ | Bus Shelters | ၁၂၀ | ၁,၁၂၇ | ၁၃၅,၂၄၀ |
| ၂ | City Information Panels | ၁၂၀ | ၄၃၁ | ၅၁,၇၂၀ |

ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြပြီးဖြစ်ပါသည်။

- အဆိုပါလုပ်ငန်းသည် ရန်ကုန်မြို့တွင်းရှိ ဘတ်စ်ကားမှတ်တိုင်များတွင် Bus Shelters, City Information Panels, Yangon Maps, Kiosk or Information Columns, Drinking Fountains, Litter Bins, Battery Recycling Containers နှင့် Showcase များထားရှိမည်ဖြစ်ပြီး Bus Shelters နှင့် City Information Panels ပေါ်တွင် ကြော်ငြာခြင်းမှ ဝင်ငွေရရှိမည်ဖြစ်ပြီး ကျန်ပစ္စည်းများအား အခကြေးငွေမယူဘဲ ဝန်ဆောင်မှုပေးမည်ဖြစ်ပါသည်။
- လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း)အရ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသည် ကုမ္ပဏီ၏ ဝင်ငွေရရှိမှုအပေါ် အောက်ပါအချိုးအတိုင်း ရရှိမည်ဖြစ်ပါသည်-

| Yr 1-3 | Yr 4 | Yr 5 | Yr 6 | Yr 7 | Yr 8 | Yr 9 | Yr 10 | Yr 11-20 |
|---|---|---|---|---|---|---|---|---|
| ၅ % | ၆ % | ၇% | ၈% | ၉% | ၁၀% | ၁၁% | ၁၂% | ၁၅% |

- အဆိုပါလုပ်ငန်းသည် အမိန့်ကြော်ငြာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်းမရှိပါ။
- အမေရိကန်ဒေါ်လာ ၇.၄ သန်း တန်ဖိုးရှိ ဘတ်စ်ကားမှတ်တိုင်သုံးပစ္စည်းများအား ပြည်ပမှ တင်သွင်းဆောင်ရွက်မည် ဖြစ်ပါသည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-၁၀၈/၂၀၁၇( ၅၀၀)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၇ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **FMIDecaux Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်မြို့တွင်းလမ်းသုံးပရိဘောဂ ဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်၊ လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံးပရိဘောဂများပေါ်တွင်ကြော်ငြာခြင်း (Design, fabrication, installation, maintenance and operation of street furniture items and operation of advertisement on those items in the city of Yangon) လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ JCDecaux Asia (S) Pte Ltd. မှ ၆၀ % နှင့်မြန်မာနိုင်ငံ First Myanmar Investment Co., Ltd. မှ ၄၀ % ဖြင့် မြန်မာနိုင်ငံတွင် FMIDecaux Company Limited တည်ထောင်ပြီး ရန်ကုန်မြို့တွင်း လမ်းသုံးပရိဘောဂဒီဇိုင်းရေးဆွဲ၊ထုတ်လုပ်၊ တပ်ဆင်၊ လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံးပရိဘောဂများပေါ်တွင် ကြော်ငြာခြင်း (Design, fabrication, installation, maintenance and operation of street furniture items and operation of advertisement on those items in the city of Yangon) လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသော လုပ်ငန်းသဘောတူ စာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ တင်ဒါစိစစ်ရေးနှင့် ရွေးချယ်ရေးကော်မတီမှ တင်ဒါအောင်မြင်ကြောင်း ကုမ္ပဏီသို့ အကြောင်းကြားစာ၊ သင်းဖွဲ့မှတ်တမ်း သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ) များကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်းကာလမှာ ၂၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၅ နှစ် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၃.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ထည့်ဝင်မည့် အမျိုးအစား | နိုင်ငံခြား (US$ သန်း) | မြန်မာ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၇.၈၀ | ၅.၂၀ | ၁၃.၀၀ |
| | **စုစုပေါင်း** | ၇.၈၀ | ၅.၂၀ | ၁၃.၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၇ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၂,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၁ဦး ခန့်ထားမည်ဖြစ်ပြီး လစာမှာ အမေရိကန် ဒေါ်လာ ၂,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း)တွင် သတ်မှတ်ထားသော ရန်ကုန်မြို့တွင်းရှိဘတ်စ်ကားမှတ်တိုင် ၂၇၈ နေရာတွင် Bus Shelters ၅၀၀ တည်ဆောက်မည်ဖြစ်ပြီး City Information Panels, Yangon Maps, Kiosk or Information Columns, Drinking Fountains, Litter Bins, Battery Recycling Containers နှင့် Showcase များထားရှိမည်ဖြစ်ပါသည်။ Bus Shelters နှင့် City Information Panels ပေါ်တွင် ကြော်ငြာသည့် ဝန်ဆောင်မှုလုပ်ငန်းမှ ဝင်ငွေရရှိမည်ဖြစ်ပါသည်။ ကျန်ပစ္စည်းများအား အခကြေးငွေမယူဘဲ ဝန်ဆောင်မှုပေးမည်ဖြစ်ပါသည်။

၈။ အဆိုပါလုပ်ငန်းမှ ပထမနှစ်တွင် ဝန်ဆောင်မှုပေးမည့်(အမျိုးအစား)နှင့် ဝန်ဆောင်ခနှုန်း (US$) တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှုအမျိုးအစား | ယူနစ် | ဈေးနှုန်း (US$) | စုစုပေါင်းရရှိငွေ (US$) |
|---|---|---|---|---|
| ၁ | Bus Shelters | ၁၂၀ | ၁,၁၂၇ | ၁၃၅,၂၄၀ |
| ၂ | City Information Panels | ၁၂၀ | ၄၃၁ | ၅၁,၇၂၀ |

၉။ အဆိုပါလုပ်ငန်းနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များအား တင်ပြထားပါသည်။

**(နောက်ဆက်တွဲ-က)**

၁၀။ ငွေကြေးအထောက်အထားအဖြစ် The Bank of Tokyo-Mitsublish UFJ.Ltd. (Yangon Branch) တွင် FMIDecaux Company Limited အမည်ဖြင့် US$ ၇၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၁။ (က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့ တွင် ကျင်းပပြုလုပ်ခဲ့သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၈/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

(ဂ) လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း) အရ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီသည် ကုမ္ပဏီ၏ဝင်ငွေရရှိမှုအပေါ် အောက်ပါအချိုးအတိုင်း ရရှိမည်ဖြစ်ပါသည်-

| Yr 1-3 | Yr 4 | Yr 5 | Yr 6 | Yr 7 | Yr 8 | Yr 9 | Yr 10 | Yr 11-20 |
|---|---|---|---|---|---|---|---|---|
| ၅% | ၆% | ၇% | ၈% | ၉% | ၁၀% | ၁၁% | ၁၂% | ၁၅% |

(ဃ) အဆိုပါလုပ်ငန်းသည် အမိန့်ကြော်ငြာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်းမရှိပါ။

(င) အမေရိကန်ဒေါ်လာ ၇.၄ သန်း တန်ဖိုးရှိ ဘတ်စ်ကားမှတ်တိုင်သုံး ပစ္စည်းများအား ပြည်ပမှ တင်သွင်းဆောင်ရွက်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် FMIDecaux Company Limited မှ ရန်ကုန်မြို့တွင်း လမ်းသုံးပရိဘောဂဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်၊ လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံးပရိဘောဂများပေါ်တွင် ကြော်ငြာခြင်း (Design, fabrication, installation, maintenance and operation of street furniture items and operation of advertisement on those items in the city of Yangon) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင် ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ- က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၁၀.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ ခ-၀၀၈/၂၀၁၇(၄၈၂)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်္ကာပူနိုင်ငံ JCDecaux Asia (S) Pte Ltd မှ ၆၀ % နှင့် မြန်မာနိုင်ငံ First Myanmar Investment Co., မှ ၄၀% ဖြင့် မြန်မာနိုင်ငံတွင် FMIDecaux Company Limited တည်ထောင်ကာ ရန်ကုန်မြို့တွင်း လမ်းသုံးပရိဘောဂ ဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်၊ လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံး ပရိဘောဂများပေါ်တွင် ကြော်ငြာခြင်း (Design, Fabrication, Installation, Maintenance and Operation of Street Furniture Items and Operation of Advertisement on those Items in the City of Yangon) လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါလုပ်ငန်းသည် ၂၄.၈.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၄)အရ Street Furniture Item တင်ဒါစာချုပ်တွင် 20 Year Contact Term ဖြင့် စာချုပ်ချုပ်ဆိုခွင့်ပြုထားသော လုပ်ငန်းဖြစ်သောကြောင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

၃၁/၁၀/၁၇

ဝန်ကြီးချုပ် (ကိုယ်စား)
( ဟံထွန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့်စွမ်းအင်ဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန(အရှေ့/အနောက်/တောင်/မြောက်)၊ ရန်ကုန်တိုင်းဒေသကြီး
FMIDecaux Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2017/Cabinet/30.,(6)




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC (OSS) /ဝ၁ (၁၈၇၂/၁၇)
ရက်စွဲ၊ ၂ဝ၁၇ ခုနှစ် နိုဝင်ဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **FMI Decaux Company Limited မှ ရန်ကုန်မြို့တွင်း လမ်းသုံးပရိဘောဂဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင် လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံး ပရိဘောဂများပေါ်တွင်ကြော်ငြာခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃ဝ-၁ဝ-၂ဝ၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ ခ-ဝ၁၈/ ၂ဝ၁၇(၄၈၉)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ JC Decaux Asia (S) Pte Ltd. မှ ၆ဝ% နှင့် မြန်မာနိုင်ငံ First Myanmar Investment Co., မှ ၄ဝ% ဖြင့် မြန်မာနိုင်ငံတွင် FMI Decaux Company Limited တည်ထောင်ကာ ရန်ကုန်မြို့တွင်း လမ်းသုံးပရိဘောဂ ဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်ခြင်း လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် ထိုလမ်းသုံးပရိဘောဂများပေါ်တွင် ကြော်ငြာခြင်း (Design, Fabrication, Installation, Maintenance and Operation of Street Furniture Items and Operation of Advertisement on those Items in the City of Yangon) လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၂ဝ) ဖြစ်ပြီး၊ လုပ်ငန်းအောင်မြင်မှုပေါ်မူတည်၍ သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၅)နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် ရန်ကုန်စည်ပင်သာယာ နယ်နိမိတ်အတွင်း ခရီးသည်တင်ယာဉ်ဘတ်(စ်)ကားရပ်နား ရန်နေရာ စုစုပေါင်း (၅ဝဝ) ခန့် တည်ဆောက်သွားမည်ဖြစ်ပြီး၊ ဂိတ်တစ်ခုချင်းစီတွင် City Information Panels, Real Time Information Boards, additional Litter Bins, Battery recycling Container နှင့် ကြော်ငြာပိုစတာတပ်ဆင်ခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ဆောက်လုပ်ရေး ကုန်ကြမ်းပစ္စည်းများကို နိုင်ငံခြားတွင် တည်ဆောက်မည်ဖြစ်ပြီး ပြည်တွင်း၌ ဖောင်ဒေးရှင်းတည်ဆောက်ခြင်းနှင့်တပ်ဆင်ခြင်းလုပ်ငန်းသာ ဆောင်ရွက်မည် ဖြစ်ကြောင်း၊

(ဃ) ကြော်ငြာဆိုင်းဘုတ်အတွက် လုပ်ငန်းအပ်နှံသော ပိုစတာများကိုလည်း ပြည်ပတွင်ရိုက်နှိပ်မည်ဖြစ်ပြီး ပြည်တွင်း၌ တပ်ဆင်ရေးလုပ်ငန်းသာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ခရီးသည်တင်ဘတ်(စ်)ကားများတွင် တပ်ဆင်မည့်တည်နေရာပြစနစ်နှင့် ဘတ်(စ်) ကားဂိတ်တွင်တပ်ဆင်မည့် ယာဉ်ရောက်ရှိမှု အသိပေးစနစ်အတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ တည်ဆောက်ပြီး ကွန်ယက်စနစ်ကို အသုံးပြုဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီနှင့်ချုပ်ဆိုမည့် သဘောတူညီမှုစာချုပ် (မူကြမ်း) ဖော်ပြပါရှိပါကြောင်း။

(ဆ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဇ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(ဈ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများစသည်တို့ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လေထုနှင့် ရေထု ညစ်ညမ်းမှုမရှိစေရန်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) FMI Decaux Company Limited မှ ရန်ကုန်မြို့တွင်း လမ်းသုံးပရိဘောဂ ဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်လုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့်ထိုလမ်းသုံးပရိဘောဂများပေါ်တွင် ကြော်ငြာခြင်းလုပ်ငန်းကို တည်ဆောက်ရေးလုပ်ငန်း ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင် ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှား၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင် လေထုနှင့် မြေထု ညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ယာဉ်ရပ်နားဂိတ်များတွင် ခရီးသည်များ စွန့်ပစ်မည့် စွန့်ပစ်အမှိုက်များကို စနစ်တကျစွန့်ပစ်ရန် အမှိုက်ပုံးများထားရှိခြင်းမရှိပါက ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များနှင့် စွန့်ပစ်ပစ္စည်း အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ FMI Decaux Company Limited မှ ရန်ကုန်မြို့တွင်းလမ်းသုံးပရိဘောဂဒီဇိုင်းရေးဆွဲ၊ ထုတ်လုပ်၊ တပ်ဆင်ခြင်းလုပ်ငန်းလုပ်ကိုင်ခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့်ထိုလမ်းသုံးပရိဘောဂများပေါ်တွင်ကြော်ငြာခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံ ရေးသားတင်ပြရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်

အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(ဃ) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊



(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ